ကုမ္ပဏီအမည် - Northwood Industry Limited

လုပ်ငန်း - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Northwood Industry Limited မှ သစ်ခွဲသား၊ ကြမ်းခင်း၊ သစ်ပါးလွှာ၊ အထပ်သားနှင့် ပရိဘောဂများ အပါအဝင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၂-၆-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့ အကြောင်းကြားခြင်း | ၃၀-၆-၂၀၁၄ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃-၇-၂၀၁၅ | ၁၈-၈-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃-၇-၂၀၁၅ | ၇-၈-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၃-၇-၂၀၁၅ | ၁၇-၇-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း (၂၂/၂၀၁၅) | ၂၉-၆-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၆-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၇-၉-၂၀၁၅ | | |
| ၆ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၁-၉-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၈၂ ရက်** | | |

၁။ ကုမ္ပဏီအမည် Northwood Industry Limited
၂။ အဖွဲ့အစည်းပုံသဏ္ဍာန် ရာနိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား သစ်ခွဲသား၊ ကြမ်းခင်း၊ သစ်ပါးလွှာ၊ အထပ်သားနှင့် ပရိဘောဂများ အပါအဝင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း
၄။ တည်နေရာ အကွက်အမှတ်- H ၁၃၇၊ ၁၃၈၊ ၁၅၁၊ ၁၅၂၊ သစ်အခြေခံစက်ရုံ၊ မြန်မာ့သစ်လုပ်ငန်း၊ ချ- ရပ်ကွက်၊ ၆၀ လမ်း နှင့် ၆၂ လမ်းကြား၊ မန္တလေးစက်မှုဇုန်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၅.၄၈၈ သန်း
၆။ ရောင်းချမည့်စနစ် ပြည်ပသို့ ၇၀% တင်ပို့မည်ဖြစ်ပြီး ပြည်တွင်း၌ ၃၀% ရောင်းချမည် ဖြစ်ပါသည်။
၇။ လုပ်ငန်းသက်တမ်း ၃၀ နှစ်
၈။ အရင်းကြေကာလ ၄ နှစ် ၅ လ
၉။ IRR ၁၈%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၂.၀၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၉၉၅.၀၀၀ |
| ၅ | ဝင်ငွေခွန် | ၁၉၆၂.၂၅၀ | ၃၆၉၆.၀၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၂၄၆၀.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၉)ဦး |
| ၈ | CSR (၂%) | | ၂၂၀.၀၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၂၂၈.၉၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၁၃၀ ဦး<br>ပြည်ပ ၂၅ ဦး<br>ပြည်တွင်းလုပ်သား (၁၅၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၁၉၉၆.၄၁၀ | ၉၆၀၂.၀၆၅ |
| | Cost & Benefit | ၁:၅ | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Northwood Industry Limited မှ သစ်ခွဲသား၊ ကြမ်းခင်း၊ သစ်ပါးလွှာ၊ အထပ်သားနှင့် ပရိဘောဂများ အပါအဝင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Northwood Industry Limited<br>- Mr. Chetta Apipatana |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (စင်္ကာပူနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - သစ်ခွဲသား၊ ကြမ်းခင်း၊ သစ်ပါးလွှာ၊ အထပ်သားနှင့် ပရိဘောဂများ အပါအဝင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေး စက်မှုဇုန်၊ ၆၀လမ်းနှင့်၆၂လမ်းကြား၊ (ရှ)ရပ်ကွက်၊ အကွက် အမှတ်- H ၁၃၇, ၁၃၈,၁၅၁,၁၅၂ |
| | မြေပိုင်ရှင် | - မြန်မာ့သစ်လုပ်ငန်း |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၄.၀၄ ဧက ( ၁၆,၃၅၀.၀၀ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ပထမ ၃နှစ်အတွက် တစ်နှစ်လျှင် US$ ၃၂၇၀၀ နှုန်း<br>(တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၂.၀ နှုန်း) |
| | မြေအသုံးချခွင့်ပရီမီယံ | - မြေငှားသက်တမ်းနှစ် ၃၀ အတွက် US$ ၄၉၀,၅၀၀<br>(တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၁.၀ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၅.၄၈၈ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **Foreign Capital (US$ သန်း)** |
| | ငွေသား | ၀.၂၅၀ |
| | စက်နှင့် စက်ပစ္စည်း(ပြည်ပဝယ်) | ၀.၃၂၀ |
| | ကုန်ကြမ်း | ၄.၄၂၈ |
| | အခြား | ၀.၄၉၀ |
| | **စုစုပေါင်း** | **၅.၄၈၈** |
| ၆။ | ဝန်ထမ်းအင်အား | - **၆၄၈ ဦး** |
| | ပြည်တွင်း | - ၆၄၅ ဦး ( ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၃၀၀,၀၀၀ ကျပ်) |
| | ပြည်ပ | - ၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၃၅၀,၀၀၀) |

၇။ ရောင်းချမည့်စနစ်

- ပြည်ပတင်ပို့၊ ပြည်တွင်းရောင်း

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက်

| စဉ် | ပစ္စည်း အမျိုးအစား/ ပြည်ပတင်ပို့ မည့် ရာခိုင်နှုန်း | အရေ အတွက် (CBT) | ရောင်းချမည့် ဈေးနှုန်း (US$/CBT) |
|---|---|---|---|
| (က) | သစ်ပါးလွှာအထူ ၀.၃ မမ (၁၀၀%) | ၅,၆၅၃ | ၁,၂၉၆.၀၀ |
| (ခ) | အလယ်ခံအထူ၁.၈ မမ (၁၀၀%) | ၃,၇၆၉ | ၇၀၂.၀၀ |
| (ဂ) | အထပ်သား၁၁.၅ပေx ၈ပေx ၄ပေ(၁၀၀%) | ၅,၁၈၂ | ၁,၅၇၃.၀၀ |
| (ဃ) | ကျွန်းကြမ်း ခင်းတုံး (၅၀%) | ၃၇၇ | ၄,၀၂၅.၀၀ |
| (င) | ပြတင်း၊ တံခါး နှင့် ပရိဘောဂ (၄၂%) | ၇၇၃ | ၄,၇၁၅.၀၀ |
| (စ) | အချောထည် သစ်မာ ခွဲသား (၁၀၀%) | ၁,၄၂၀ | ၉၂၀.၀၀ |

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက်

| စဉ် | ပစ္စည်း အမျိုးအစား/ ပြည်တွင်းရောင်း ရာခိုင်နှုန်း | ရေ တွက် ပုံ | အရေ အတွက် | ရောင်းချမည့် ဈေးနှုန်း (ကျပ်/Unit) |
|---|---|---|---|---|
| (က) | အထပ်သား ၂.၇မမx၈ပေx ၄ပေ (၁၀၀%) | ချပ် | ၈၉,၁၆၈ | ၇,၀၀၀ |
| (ခ) | အထပ်သား ၅မမx၈ပေx ၄ပေ (၁၀၀%) | ချပ် | ၂၈၉,၂၂၈ | ၁၂,၀၀၀ |
| (ဂ) | သစ်ခွဲသား (၁၀၀%) | CBT | ၄,၇၃၅ | ၅၅၀,၀၀၀ |
| (ဃ) | ကျွန်းကြမ်းခင်း တုံး (၅၀%) | CBT | ၃၇၇ | ၂,၅၀၀,၀၀၀ |
| (င) | ပြတင်း၊ တံခါး နှင့် ပရိဘောဂ (၅၈%) | CBT | ၇၇၃ | ၃,၅၀၀,၀၀၀ |

၈။ ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) - US$ ၃၃.၉၅၆ သန်း

အသုံးစရိတ် - US$ ၃၂.၃၇၁ သန်း

ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) - US$ ၁.၅၈၅ သန်း

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၀.၅၂၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၅၁၇ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၅ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၈ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၅၀၀ KW |
| ၁၁။ | CSR | - အသားတင်အမြတ်၏ ၂ % |
| ၁၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - စက်ရုံဝန်းကျင် သန့်ရှင်းအောင်ထားခြင်း၊ လောင်စာများအား စနစ်တကျသိုလှောင်ခြင်း၊ ဝန်ထမ်းများအား မီးငြိမ်းသတ်ရေး သင်တန်းများပေးခြင်း၊ မီးသတ်ဆေးဘူး၊ မီးသတ်ရေပိုက်ခေါင်းများ၊ ရေလှောင်ကန်များထားရှိခြင်း၊ အလိုအလျောက် မီးအချက်ပေးစနစ်များ တပ်ဆင်ခြင်း၊ မီးဘေးလုံခြုံရေး ဝန်ထမ်းကို နေ့စဉ်တာဝန်ချထားခြင်း၊ မီးဘေးကြုံတွေ့ရပါက ငြိမ်းသတ်မည့်နည်းလမ်းများနှင့် ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေး လုပ်ငန်းများ စီစဉ်ထားရှိခြင်းတို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | အခြားတင်ပြချက် | - Northwood Industry Limited ၏ MOA, AOA မူကြမ်း တင်ပြထားပါသည်။<br>- Northwood Co. Pte. Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ၊ MOA, AOA မိတ္တူ တင်ပြထားပါသည်။<br>-ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- မြန်မာ့သစ်လုပ်ငန်းနှင့် Northwood Industry Limited တို့ ချုပ်ဆိုမည့် မြေနှင့်စက်ရုံ ငှားရမ်းခြင်း စာချုပ် (မူကြမ်း)၊<br>- မြန်မာ့သစ်လုပ်ငန်းနှင့် Northwood Industry Limited တို့ချုပ်ဆိုမည့်မြေနှင့်စက်ရုံ ငှားရမ်းခြင်းစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊<br>- စက်ရုံ၏ တည်နေရာပြမြေပုံ၊ Layout Plan များကိုတင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - စင်ကာပူနိုင်ငံရှိ DBS Bank မှ (၃၁-၁၀-၂၀၁၄) ရက်စွဲဖြင့် Northwood Co. Pte. Ltd သည် USD ၇၆၂,၁၇၂.၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက်စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- ပုဂ္ဂလိကသစ်မာစိုက်ခင်း တည်ထောင်ရေးအတွက် ပဲခူးတိုင်း နှင့် မကွေးတိုင်းတို့တွင် ၁,၈၉၆ ဧကခန့် စိုက်ပျိုးနိုင်ရေး စီစဉ်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ESIA အစီရင်ခံစာအတွက် Asia Guiding Star Services Co., Ltd. နှင့် ပူးပေါင်းဆောင်ရွက်မည့် သဘောတူညီမှု စာချုပ် (မူကြမ်း) ကို ပြုစုတင်ပြထားပါသည်။<br>- ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြန်မာ့သစ်လုပ်ငန်းပိုင် သစ်အခြေခံစက်ရုံအား မူလက Myanmar Yunan Wood Industries Co., Ltd. မှ ကော်မရှင် ခွင့်ပြုမိန့်ဖြင့် ငှားရမ်း ဆောင်ရွက်ခဲ့ပြီး ဆက်လက် လုပ်ငန်းလည်ပတ်နိုင်ခြင်း မရှိဘဲ မြေငှားရမ်းခနှင့် အမြတ်ငွေများအား မြန်မာ့သစ် လုပ်ငန်းသို့ ပေးသွင်းရန် ကျန်ရှိနေသောကြောင့် ဌာနမှ တရားစွဲဆိုရန် ဆုံးဖြတ်၍ ကော်မရှင်သို့ တင်ပြခွင့်ပြုချက် ရယူခဲ့ပါသည်။ သို့ရာတွင် ပြည်ထောင်စုဝန်ကြီးမှ တရားစွဲဆိုခြင်းမပြုဘဲ Northwood Industry Limited နှင့် ညှိနှိုင်းခဲ့ပါသည်။ Northwood Industry Limited သည် Myanmar Yunan Wood Industries Co., Ltd. မှ မြန်မာ့သစ်လုပ်ငန်းသို့ ပေးသွင်းရန် ကျန်သည့်ငွေများကို ပေးသွင်းပြီး လုပ်ငန်းကို လွှဲပြောင်းယူခဲ့ပြီး ကော်မရှင် ခွင့်ပြုမိန့် ရယူနိုင်ရေးအတွက် အဆိုပြုလွှာတင်ပြလာခြင်း ဖြစ်ပါသည်။ |
| ၁၄။ | စိစစ်တင်ပြချက် | |

| | | |
|---|---|---|
| | | - မြန်မာ့သစ်လုပ်ငန်းနှင့် Northwood Industry Limited တို့ချုပ်ဆိုမည့်မြေနှင့်စက်ရုံ ငှားရမ်းခြင်းစာချုပ် (မူကြမ်း) တွင် မြေငှားရမ်းခအား ပထမ ၃နှစ်အတွက်သာ သတ်မှတ်ထားခြင်းဖြစ်ပြီး နောက်နှစ်များအတွက် မြေငှားရမ်းခအား ၃ နှစ် တစ်ကြိမ် ပြန်လည်စိစစ်သတ်မှတ်မည် ဖြစ်ကြောင်းနှင့် နောက်ဆုံးသတ်မှတ်ထားသည့် မြေငှားရမ်းခ၏ ၁၅% ထက် မပိုစေရဟု လည်းကောင်း၊ နှစ်စဉ် မြေငှားရမ်းခကို ဘဏ္ဍာရေးနှစ်မတိုင်မီ ၃လ ကြိုတင်၍ ပေးချေရမည်ဖြစ်ကြောင်း၊ မြေအသုံးချခွင့်ပရီမီယံအား မြေငှားစာချုပ်ချုပ်ဆိုပြီးသည့်နေ့မှ ရက်ပေါင်း ၃၀ အတွင်း ပေးချေရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- ဝန်ထမ်းများ၏ အနိမ့်ဆုံးလုပ်ခလစာမှာ တစ်ရက်လျှင် ၃၂၂၅.၈၀ ကျပ်နှုန်း ဖြစ်ပြီး ပြည်တွင်း၌ သတ်မှတ်ထားသော အနိမ့်ဆုံး လုပ်ခလစာနှုန်းထားထက် လျော့နည်းကြောင်း တွေ့ရှိရပါသည်။<br>- အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၉-၆-၂၀၁၅ ရက်နေ့တွင် ကျင်းပခဲ့သော ၂၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီးဖြစ်ပါသည်။<br>- အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- Exchange Rate အနေဖြင့် 1 US$ =1000 MMK ဖြင့် ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂ / န-၁၂၈ / ၂၀၁၅ ( ၇၀၃ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာနိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Northwood Industry Limited မှ သစ်ခွဲသား၊ ကြမ်းခင်း၊ သစ်ပါးလွှာ၊ အထပ်သားနှင့် ပရိဘောဂများ အပါအဝင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ Nothwood Co., Pte. Ltd. မှ ရာနိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Northwood Industry Limited တည်ထောင်ကာ မြန်မာ့သစ်လုပ်ငန်း၏ သစ်အခြေခံစက်ရုံ၊ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုဇုန်၊ ၆၁လမ်းနှင့် ၆၂လမ်းကြား၊ (ဈ) ရပ်ကွက်၊ အကွက်အမှတ်- H ၁၃၇၊ ၁၃၈၊ ၁၅၁၊ ၁၅၂ ရှိ စုစုပေါင်းမြေဧရိယာ ၄.၀၄ ဧက (၁၆,၃၅၀.၀၀ စတုရန်းမီတာ) ကို ငှားရမ်းကာ သစ်ခွဲသား၊ ကြမ်းခင်း၊ သစ်ပါးလွှာ၊ အထပ်သားနှင့် ပရိဘောဂများ အပါအဝင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြန်မာ့သစ်လုပ်ငန်း နှင့် မြေငှားသူ Northwood Industry Limited မြေနှင့်စက်ရုံ ငှားရမ်းခြင်း စာချုပ် (မူကြမ်း) ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၄.၀၄ ဧက (၁၆,၃၅၀.၀၀ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ် မြေငှား ရမ်းခမှာ တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၂.၀ နှုန်းဖြင့် ပထမသုံးနှစ်အတွက် တစ်နှစ်လျှင် US$ ၃၂,၇၀၀ ဖြစ်ပါသည်။ မြေအသုံးချခွင့်ပရီမီယံမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၀ နှုန်းဖြင့် မြေငှားသက်တမ်းနှစ် ၃၀ အတွက် US$ ၄၉၀,၅၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ်ခန့် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၅.၄၈၈ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | Foreign Capital (US$ သန်း) |
|---|---|---|
| (က) | ငွေသား | ၀.၂၅၀ |
| (ခ) | စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | ၀.၃၂၀ |
| (ဂ) | ကုန်ကြမ်း | ၄.၄၂၈ |
| (ဃ) | အခြား | ၀.၄၉၀ |
| | **စုစုပေါင်း** | **၅.၄၈၈** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၆၄၅ ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၃ ဦး စုစုပေါင်း ၆၄၈ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၃၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့်ပစ္စည်းများအား ပြည်ပသို့တင်ပို့မည်ဖြစ်ပြီး ပြည်တွင်း၌လည်း ရောင်းချမည်ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | ပြည်ပပို့မည့် ရာခိုင်နှုန်း | အရေအတွက် (CBT) | ရောင်းချမည့် ဈေးနှုန်း (US$/CBT) |
|---|---|---|---|---|
| (က) | သစ်ပါးလွှာအထူ ၀.၃ မမ | ၁၀၀ | ၅,၆၅၃ | ၁,၂၉၆.၀၀ |
| (ခ) | အလယ်ခံအထူ ၁.၈ မမ | ၁၀၀ | ၃,၇၆၉ | ၇၀၂.၀၀ |
| (ဂ) | အထပ်သား ၁၁.၅ပေX ၈ပေX ၄ပေ | ၁၀၀ | ၅,၁၈၂ | ၁,၅၇၃.၀၀ |
| (ဃ) | ကျွန်းကြမ်းခင်းတုံး | ၅၀ | ၃၇၇ | ၄,၀၂၅.၀၀ |
| (င) | ပြတင်း၊ တံခါးနှင့် ပရိဘောဂ | ၄၂ | ၇၇၃ | ၄,၇၁၅.၀၀ |
| (စ) | အချောထည်သစ်မာခွဲသား | ၁၀၀ | ၁,၄၂၀ | ၉၂၀.၀၀ |

| စဉ် | ပစ္စည်းအမျိုးအစား | ပြည်တွင်း ရောင်းချမည့် ရာခိုင်နှုန်း | ရေတွက်ပုံ | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (ကျပ်/Unit) |
|---|---|---|---|---|---|
| (က) | အထပ်သား ၂.၇မမx၈ပေx ၄ပေ | ၁၀၀ | ချပ် | ၈၉,၁၆၈ | ၇,၀၀၀ |
| (ခ) | အထပ်သား ၅မမx၈ပေx ၄ပေ | ၁၀၀ | ချပ် | ၂၈၉,၂၂၈ | ၁၂,၀၀၀ |
| (ဂ) | သစ်ခွဲသား | ၁၀၀ | CBT | ၄,၇၃၅ | ၅၅၀,၀၀၀ |
| (ဃ) | ကျွန်းကြမ်း ခင်းတုံး | ၅၀ | CBT | ၃၇၇ | ၂,၅၀၀,၀၀၀ |
| (င) | ပြတင်း၊ တံခါးနှင့် ပရိဘောဂ | ၅၈ | CBT | ၇၇၃ | ၃,၅၀၀,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၃.၉၅၆ |
| (ခ) | အသုံးစရိတ် | ၃၂.၃၇၁ |
| (ဂ) | အသားတင်အမြတ် | ၁.၅၈၅ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၅၂၈ သန်း ဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန်မှာ အမေရိကန်ဒေါ်လာ ၀.၅၁၇ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၈ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ

လက်ခံနိုင်ခြင်းရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ သစ်ကုန်ကြမ်းရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ကြောင်း၊ ရေရှည်ကုန်ကြမ်းရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တော စိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့်လျှောက်ထားဆောင်ရွက်နိုင်ကြောင်း၊ လုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်မှုများရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း စနစ်အသုံးပြုရန်၊ အဆိုပြုလွှာ တွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေစုစုပေါင်း၏ (၂%) အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊ ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ် လုပ်မှုနည်းပညာများ၊ လုပ်ငန်း အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည် ဖော်ဆောင်ရွက်ရန် သဘောထား ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

**နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ

စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။

**နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Northwood Co. Pte. Ltd သည် စင်ကာပူနိုင်ငံရှိ DBS Bank မှ (၃၁-၁၀-၂၀၁၄) ရက်စွဲဖြင့် USD ၇၆၂,၁၇၂.၀၀ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။

၁၂။ Northwood Industry Limited မှ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများလစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက် နှင့် CSR Project တို့ကို တင်ပြထား ပါ သည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇွန်လ ၂၂ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၁၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြန်မာ့သစ်လုပ်ငန်းပိုင် သစ်အခြမ်းစက်ရုံအား မူလက Myanmar Yunan Wood Industries Co., Ltd. မှ ကော်မရှင် ခွင့်ပြုမိန့်ဖြင့် ငှားရမ်းဆောင်ရွက်ခဲ့ပြီး ဆ.က်လက် လုပ်ငန်းလည်ပတ်နိုင်ခြင်းမရှိဘဲ မြေငှားရမ်းခ နှင့် အမြတ်ငွေများအား မြန်မာ့သစ်လုပ်ငန်းသို့ ပေးသွင်းရန် ကျန်ရှိနေသောကြောင့် ဌာနမှ တရားစွဲဆိုရန်ဆုံးဖြတ်၍ ကော်မရှင်သို့ တင်ပြ၍ခွင့်ပြုချက်ရယူခဲ့ပါသည်။ သို့ရာတွင် ပြည်ထောင်စုဝန်ကြီးမှ တရားစွဲဆိုခြင်းမပြုဘဲ Northwood Industry Limited နှင့် ညှိနှိုင်းခဲ့ပါသည်။ Northwood Industry Limited သည် Myanmar

Yunan Wood Industries Co., Ltd. မှ မြန်မာ့သစ်လုပ်ငန်းသို့ ပေးသွင်းရန် ကျန်သည့်ငွေများကို ပေးသွင်းပြီး လုပ်ငန်းကို လွှဲပြောင်းယူခဲ့ပြီး ကော်မရှင် ခွင့်ပြုမိန့် ရယူနိုင်ရေးအတွက် အဆိုပြုလွှာတင်ပြလာခြင်း ဖြစ်ပါသည်။

(ခ) မြန်မာ့သစ်လုပ်ငန်းနှင့် Northwood Industry Limited တို့ချုပ်ဆိုမည့်မြေနှင့်စက်ရုံ ငှားရမ်းခြင်းစာချုပ် (မူကြမ်း) တွင် မြေငှားရမ်းခအား ပထမ ၃ နှစ်အတွက်သာ သတ်မှတ် ထားခြင်းဖြစ်ပြီး နောက်နှစ်များအတွက် မြေငှားရမ်းခအား ၃ နှစ် တစ်ကြိမ် ပြန်လည်စိစစ်သတ်မှတ်မည်ဖြစ်ကြောင်းနှင့် နောက်ဆုံးသတ်မှတ်ထားသည့် မြေငှား ရမ်းခ၏ ၁၅% ထက် မပိုစေရဟုလည်းကောင်း၊ နှစ်စဉ်မြေငှားရမ်းခကို ဘဏ္ဍာရေးနှစ် မတိုင်မီ ၃လ ကြိုတင်၍ ပေးချေရမည်ဖြစ်ကြောင်း၊ မြေအသုံးချခွင့်ပရီမီယံအား မြေငှားစာချုပ်ချုပ်ဆိုပြီးသည့်နေ့မှ ရက်ပေါင်း ၃၀ အတွင်း ပေးချေရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဂ) ဝန်ထမ်းများ၏ အနိမ့်ဆုံးလုပ်ခလစာမှာ တစ်ရက်လျှင် ၃၂၂၅.၈၀ ကျပ်နှုန်း ဖြစ်ပြီး ပြည်တွင်း၌ သတ်မှတ်ထားသော အနိမ့်ဆုံး လုပ်ခလစာနှုန်းထားထက် လျော့နည်း ကြောင်း တွေ့ရှိရပါသည်။

၁၇။ **ဆုံးဖြတ်ရန်အချက်။** စင်္ကာပူနိုင်ငံမှ Northwood Co., Pte. Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Northwood Industry Limited တည်ထောင်ကာ အကွက်အမှတ်-H ၁၃၇၊ ၁၃၈၊ ၁၅၁၊ ၁၅၂၊ သစ်အခြေခံစက်ရုံ၊ မြန်မာ့သစ်လုပ်ငန်း၊ (၅၂) ရပ်ကွက်၊ ၆၁ လမ်းနှင့် ၆၂ လမ်းကြား၊ မန္တလေးစက်မှုဇုန်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၄.၀၄ ဧက (၁၆,၃၅၀.၀၀ စတုရန်းမီတာ) ကို ငှားရမ်းကာ တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

## Northwood Industry Limited ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Northwood Industry Limited. | Northwood Co., Pte. Ltd. by it Directors:, | |
| | | (a) Mr. Chetta Apipatana Thailand AA 3013019 | 41-43 Mahesak Road, Bangrak, Bangkok, 10500, Thailand. |
| | | ( b) Mr. Thanit Apipatana Thailand AA 3011828 | 41-43 Mahesak Road, Bangrak, Bangkok, 10500, Thailand. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၅၈၉၁၆

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - 41-43 Mahesak Road, Bangrak, Bangkok, 10500, Thailand.

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Chetta Apipatana Director

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

MIC၊ 22 / 18/8



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ဦး ၆(၁၉၇)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏(၃.၆.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၂ / န - ၁၂၈ / ၂၀၁၅ (၅၃၀)

၁။ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုဇုန်၊ ၆၀×၆၂လမ်းကြား၊ (၈)ရပ်ကွက်၊ အကွက်အမှတ်- H ၁၃၇၊ ၁၃၈၊ ၁၅၀၊ ၁၅၂)ရှိ စုစုပေါင်း မြေဧရိယာ ၄.၀၄ဧက (၁၆၃၅၀.၀၀ စတုရန်းမီတာ)၊ မြန်မာ့သစ်လုပ်ငန်း၊ သစ်အခြေခံစက်ရုံအား ငှားရမ်းပြီး တန်ဖိုးမြှင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စင်္ကာပူနိုင်ငံ၊ Northwood Co.,Pte. Ltd. မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် Northwood Industry Company Limited တည်ထောင်ဆောင်ရွက်သွားမည်ဖြစ်ပါသဖြင့် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားကို ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ လုပ်ငန်းအတွက် စက်ပစ္စည်းများ တပ်ဆင်ဆောင်ရွက်လျက်ရှိရာ ၁၀၀ % ဆောင်ရွက်ပြီးဖြစ်ပြီး Test Run ပြုလုပ်ရန် အဆင်သင့်အခြေအနေဖြစ်ပါကြောင်း၊ စက်ရုံလည်ပတ်မှုနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုအခြေအနေအတွက် လုပ်ငန်းမှ တာဝန်ခံပါကြောင်းနှင့် ဖွဲ့စည်းပုံတင်ပြမှုတွင်လည်း လုပ်သားအင်အား (၄၀၀) ဦးခန့် ထည့်သွင်းရေးဆွဲထားသည်ကို စိစစ်တွေ့ရှိရသည့်အပြင် အောက်ပါအချက်များနှင့်လည်း ကိုက်ညီမှုရှိသည်ကို စိစစ်တွေ့ရှိရပါသည် -

(က) နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်စေပါသည် ၊

(ဂ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါသည် ၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သီးခြားအကြံပြုရန် မရှိပါ ။

၃။ သို့ဖြစ်ပါ၍ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုဇုန်၊ ၆၀×၆၂လမ်းကြား၊ (ဈ)ရပ်ကွက်၊ အကွက်အမှတ်-H ၁၃၇၊ ၁၃၈၊ ၁၅၁၊ ၁၅၂)ရှိ စုစုပေါင်း မြေဧရိယာ ၄.၀၄ ဧက (၁၆၃၅၀.၀၀ စတုရန်းမီတာ)၊ မြန်မာ့သစ်လုပ်ငန်း၊ သစ်အခြေခံစက်ရုံအား ငှားရမ်းပြီး တန်ဖိုးမြင့်သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စင်ကာပူနိုင်ငံ၊ Northwood Co.,Pte.Ltd. မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် Northwood Industry Company Limited တည်ထောင်ဆောင်ရွက်သွားမည့်လုပ်ငန်းနှင့်ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/(၁၇၁၄ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၇-၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၂ / န - ၁၂၈ / ၂၀၁၅ (၅၂၉)

၁။ စင်္ကာပူနိုင်ငံ Northwood Co., Pte. Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Northwood Industry Company Limited တည်ထောင်ကာ မြန်မာ့သစ်လုပ်ငန်း၏ သစ်အခြေခံစက်ရုံ ၊ မန္တလေးတိုင်းဒေသကြီး ၊ ပြည်ကြီးတံခွန်မြို့နယ် ၊ မန္တလေးစက်မှုဇုန် ၊ ၆၁ လမ်းနှင့် ၆၂ လမ်းကြား ၊ (ဈ) ရပ်ကွက်၊ အကွက် အမှတ် - H ၁၃၇၊ ၁၃၈၊ ၁၅၁၊ ၁၅၂ ရှိ စုစုပေါင်းမြေဧရိယာ (၄.၀၄) ဧက (၁၆၃၅၀.၀၀ စတုရန်း မီတာ) ကိုငှားရမ်းကာ တန်ဖိုးမြင့်သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ယင်းစာပါ ကုန်ပစ္စည်း ထုတ်လုပ်ခြင်းလုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် ဓါတုဗေဒပစ္စည်းများအား သုံးစွဲရန် လိုအပ်မည် ဖြစ်ပါသဖြင့် ကုန်ကြမ်းပစ္စည်းများအား သိုလှောင်ခြင်း၊ သုံးစွဲခြင်း၊ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု၊ လေထု၊မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံလည်ပတ်ရန် လောင်စာအဖြစ် ဒီဇယ်ဆီကိုသုံးစွဲမည် ဖြစ်သောကြောင့် လေထုညစ်ညမ်းခြင်း ၊ အသံညစ်ညမ်းမှု နှင့် စက်ရုံဧရိယာအနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်း ၊ သစ်လုံးခွဲရာတွင် လွှများ ၊ အခြားစက်ပစ္စည်းကိရိယာများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများ မတော်တဆ ဘေးအန္တရာယ်ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက် တည်ထောင်ခြင်းသည် သစ်တောဥပဒေ ၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့

D:\DIJCM\CD\(Northwood Industry Co.,Ltd).doc

သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း / ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း နှင့် ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကသစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Northwood Industry Company Limited မှ တန်ဖိုးမြင့်သစ် အခြေခံ ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်း ဆုံးဖြစ်စေမည့် လုပ်ငန်းစနစ် အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေး ဆိုင်ရာ တာဝန်ခံမှု ( CSR ) အတွက် အမြတ်ငွေ၏ ( ၂ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ် ခြင်း (Initial Environmental Examination) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဂ) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူတို့ နှင့် လူထုတွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

MIC, 25 17/7

DICA 3090 16.7.15

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၁၂၁၉)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၇. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၂၈/ ၂၀၁၅ (၅၂၈)

၁။ Northwood Industry Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးစက်မှုဇုန်၊ ၆၁လမ်းနှင့် ၆၂လမ်းကြား၊ (ဈ) ရပ်ကွက်၊ အကွက်အမှတ်-H ၁၃၇၊ ၁၃၈၊ ၁၅၁၊ ၁၅၂ တွင် တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး တန်ဖိုးမြင့်သစ်အခြေခံပစ္စည်းများ ထုတ် လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက် ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Northwood Industry Co.,Ltd. မှ တန်ဖိုးမြင့် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်း ဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ

လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၅.၇.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လူမှု၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန